အထွေထွေအရပ်ရပ် - ၁၆

( ရုံးတွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ်စာကြမ်း ရေး ရန်အတွက် )

အကြောင်းအရာ။ ။ <u>ဇမ္ဗူရတနာကုမ္ပဏီလီမိတက်မှ သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ဇမ္ဗူရတနာကုမ္ပဏီလီမိတက် ( Zambu Yadana Co., Ltd.) မှ ကမကထပြုသူ ဦးမျိုးမြင့်အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မြေကွက်အမှတ်(၅၂၁)၊ မြေတိုင်းရပ်ကွက်အမှတ်( ၂၃ )၊ စက်မှုဇုန်( ၁ )၊ ဒဂုံမြို့သစ်( တောင်ပိုင်း)၊ ရန်ကုန်မြို့ရှိ မြေ( ၂.၇၄၆ )ဧက( ၁၁၁၁၂.၆၇စတုရန်းမီတာ ) ပေါ်တွင် စက်ရုံတည်ဆောက်ပြီး၊ သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား(၂၉-၁၀-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၂၀/၉၉ )ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး( ၁၇-၁၁-၉၉ ) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏( ၁၄/၉၉ )ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးသဘောတူညီချက်အရ( ၁၆-၁၂-၉၉ )နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏( ၄၅/၉၉ ) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂/-သို့

အထွေထွေအရပ်ရပ်-၁၆
( ရုံးတွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ်စာကြမ်း ရေး ရန်အတွက် )



၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့်ယင်းဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း (၄)၊ အပိုဒ် ၁၂ တို့နှင့်အညီ ဇမ္ဗူရတနာကုမ္ပဏီလီမိတက် ( Zambu Yadana Co., Ltd. ) သို့ ထုတ်ပေးမည့် <u>ခွင့်ပြုမိန့်</u> တွင် လက်မှတ်ရေးထိုးနိုင်ပါရန်နှင့် ယင်းခွင့်ပြုမိန့်ထုတ်ပေးမည့် <u>အမှာစာ ( မူကြမ်း )</u> ကို သဘောတူအတည်ပြုပေးနိုင်ပါရန် ပြုစုတင်ပြအမိန့်နာခံအပ်ပါသည်။

၂၂-၁၂-၉၉ ။

**<u>အတွင်းရေးမှူး။</u>**

**<u>ဥက္ကဋ္ဌ။</u>**

* ဝိန် ၂၀-၁၂-၉၉။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက–၁/ မ–၁၀၅၄/ ၉၉ (၉၄ ၁ ၃)။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ၃၀ ရက်။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ <u>ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက်မှ သစ်အခြေခံ တန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)မှ သစ်အခြေခံ တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၉–၁၀–၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး မြေတန်ဖိုးကို ကျပ်(၂၀.၀၀)သန်း တန်ဖိုးသင့်ရန်နှင့် ပြင်ဆင်ပြီးပါက ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၁၇–၁၁–၉၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၄/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူ စာချုပ် (မူကြမ်း)ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၀၇)သန်း အပါအဝင် ကျပ် (၇၈.၀၅)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၁၉.၃၁)သန်း {အမေရိကန်ဒေါ်လာ (၀.၀၃)သန်း အပါအဝင်}၊ စက်ပစ္စည်းကိရိယာ တန်ဖိုးကျပ် (၆.၂၄)သန်း {အမေရိကန်ဒေါ်လာ (၁.၀၄)သန်း}၊ မြေတန်ဖိုးကျပ် (၂၀.၀၀)သန်း၊ အဆောက်အဦ တန်ဖိုးကျပ် (၃၀.၀၀)သန်းနှင့် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုးကျပ် (၂.၅၀)သန်း ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၀.၀၃)သန်းမှာ ကုမ္ပဏီပိုင်ငွေဖြစ်ပြီး စက်ပစ္စည်း ကိရိယာများကို စင်ကာပူနိုင်ငံတွင် နေထိုင်သူ Mr. Huang Wen-Chuan ထံမှ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ်အရ ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်း ဆောင်ရွက်ရန် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကမကထပြုသူ ဦးမျိုးမြင့် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၅၂၁)၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃)၊ စက်မှုဇုန်(၁) ဒဂုံမြို့သစ်(တောင်ပိုင်း)၊ ရန်ကုန်မြို့ရှိ မြေ(၂.၇၄၆)ဧက (၁၁၁၁၂.၆၈ စတုရန်းမီတာ)ပေါ်တွင် စက်ရုံတည်ဆောက်ပြီး သစ်အခြေခံ တန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ပြည်ပရောင်း (၇၀%) | | ပြည်တွင်းရောင်း (၃၀%) | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ကုဗမီတာ) | ရောင်းဈေးနှုန်း (US$/Cum) | ထုတ်လုပ်မှု (ကုဗမီတာ) | ရောင်းဈေးနှုန်း (ကျပ်/ကုဗမီတာ) |
| ၁ | Teak | | | | |
| | - Door & Window | ၄၁၅.၈ | ၂၂၀၀ | ၁၇၈.၂ | ၃၄၀၀၀၀ |
| | - Moulding/Parquet | ၄၁၅.၈ | ၁၅၀၀ | ၁၇၈.၂ | ၂၄၀၀၀၀ |
| | - Furniture Component | ၄၁၅.၈ | ၁၇၀၀ | ၁၇၈.၂ | ၂၇၀၀၀၀ |
| | - Door & Window Frame | ၂၀၇.၉ | ၁၇၀၀ | ၈၉.၁ | ၂၇၀၀၀၀ |
| | - Skirting Line | ၆၂၃.၇ | ၁၅၀၀ | ၂၆၇.၃ | ၂၄၀၀၀၀ |
| ၂ | Hardwood | | | | |
| | - Door & Window | ၃၇၈ | ၇၀၀ | ၁၆၂ | ၁၂၀၀၀၀ |
| | - Moulding/Parquet | ၃၇၈ | ၆၀၀ | ၁၆၂ | ၈၅၀၀၀ |
| | - Furniture Component | ၃၇၈ | ၆၅၀ | ၁၆၂ | ၉၀၀၀၀ |
| | - Door & Window Frame | ၁၈၉ | ၆၅၀ | ၈၁ | ၉၀၀၀၀ |
| | - Skirting Line | ၅၆၇ | ၆၀၀ | ၂၄၃ | ၈၅၀၀၀ |

၅။ ယင်းလုပ်ငန်းအတွက် လိုအပ်သော သစ်ကုန်ကြမ်းကို မြန်မာ့သစ်လုပ်ငန်း၊ သစ်တောထွက် ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက်နှင့် သစ်တောဦးစီးဌာနတို့မှ ဝယ်ယူမည်ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၃၁၅.၄၁ | ၂၈.၄၁ | ၃၄၃.၈၂ |
| (ခ) | အသုံးစရိတ် | ၃၀၂.၉၉ | ၂၆.၁၄ | ၃၂၉.၁၃ |
| (ဂ) | အသားတင်အမြတ် | ၁၂.၄၂ | ၂.၂၇ | ၁၄.၆၉ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၄)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၄.၉၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် ကျပ် ၅.၃၂ သန်း
အမေရိကန်ဒေါ်လာ ၀.၀၇ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆၃.၀၈ သန်း

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၀၁)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ သတ်မှတ်ထားသည့် "မူ"ဘောင်အတွင်းမှ ဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ချေးငွေ ရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ၊ လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ကြောင်း၊ ထွက်ရှိလာသော ကုန်ချောများအတွက် ပြည်ပ ဈေးကွက်ရှိပြီး ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။

(က) ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက်မှ သစ်အခြေခံ တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ။

MIC

ပုံစံ (-၂)

စာအမှတ် ၉၉၉၇

နေ့စွဲ ၂၄.၁၂.၉၉

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၃၂၂/ ၉၉ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာ လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးမျိုးမြင့်

(ခ) အဘအမည် ဦးရှိန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၇/ဒဥန(နိုင်)၀၃၂၀၃၉

(ဃ) နေရပ်လိပ်စာ အမှတ်(၅၂၀/ဘီ)၊ သံသုမ ၁လမ်း၊ ကြီးပွားရေး ရပ်ကွက်၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဇမ္ဗူရတနာ ကုမ္ပဏီလီမိတက်၊ ( Zambu Yadana Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သစ်အခြေခံတန်ဖိုးမြင့် ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေတိုင်းရပ်ကွက်အမှတ်(၂၃) မြေကွက်အမှတ်(၅၂၁)၊ စက်မှုဇုန်(၁)။ ဒဂုံမြို့သစ်(တောင်ပိုင်း)ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၇၈.၀၅ သန်း (ကျပ်ခုနှစ်ဆယ့်ရှစ်သန်း ငါးသောင်းတိတိ)

(signature)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၂၁/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၂ ရက်။
(၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)မှ ကမကထပြုသူ ဦးမျိုးမြင့် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မြေကွက်အမှတ် (၅၂၁)၊ မြေတိုင်း ရပ်ကွက်အမှတ် (၂၃)၊ စက်မှုဇုန်(၁) ဒဂုံမြို့သစ်(တောင်ပိုင်း)၊ ရန်ကုန်မြို့ရှိ မြေ(၂.၇၄၆)ဧက (၁၁၁၁၂.၆၈ စတုရန်းမီတာ)ပေါ်တွင် စက်ရုံတည်ဆောက်ပြီး သစ်အခြေခံ တန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၉–၁၀–၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး၊ (၁၇–၁၁–၉၉)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၄/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး သဘောတူညီချက်အရ (၁၆–၁၂–၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၅/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)အား သစ်အခြေခံ တန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ–၃၂၂/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန် အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ပရိဘောဂ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ပရိဘောဂ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ကုန်ကြမ်းများ ကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ ပရိဘောဂ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)သည် ကုန်ချောပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချရာတွင် သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် မူဝါဒနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၈။ ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ကမကထပြုသူ ဦးမျိုးမြင့်၏ အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှုကိစ္စများ ဆောက်ရွက် ပြီးစီး သည့်အချိန်တွင် အဆိုပါ မြေကွက်အား ဇမ္ဗူရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.) ၏ အမည်ပေါက် ဖြစ်စေရေးအတွက် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနသို့ လျှောက်ထား ဆောင်ရွက်ရမည်။

၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၆။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၇။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၀။ သစ်တောရေးရာ ဝန်ကြီးဌာန။
၁၁။ ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဌ၊ နိုင်ငံခြားမှတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၄။ ဥက္ကဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၅။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဇမ္ဗူ့ရတနာ ကုမ္ပဏီ လီမိတက် (Zambu Yadana Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
ညွှန်ကြားရေးမှူးချုပ်